

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်



## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-......၈၇၆...../၂၀၁၃　　၂၀၁၃ ခုနှစ် ၊　　ဇန်နဝါရီလ ၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဦးအကောက်(ခ) တင့်ဆွေ......

(ခ) အဘအမည် ......ဦးမောင်ချောင်......

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ......၁၄/ဝခမ (နိုင်) ၁၃၅၁၄၈......

(ဃ) နေရပ်လိပ်စာ ......အမှတ် –င/၄၄၊ င၀လမ်း၊ အမှတ်(၁)ရပ်ကွက်၊မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။......

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ......Delta Industrial Group Co., Ltd.......

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း......

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ......မြေကွက် အမှတ်(P-၅)၊ ကွင်းအမှတ်(၅၂–စီးပွားဇုန်) အမှတ်(၁၃)ရပ်ကွက်၊ ပုသိမ်မြို့၊ ပုသိမ်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး။......

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ......၁၃၆၀.၆၇ (သန်း)(အမေရိကန်ဒေါ်လာ(၀.၃၁)သန်း အပါအဝင် စုစုပေါင်းကျပ် တစ်ထောင်သုံးရာခြောက်ဆယ်သန်း၊ခြောက်သိန်း၊ ခုနစ်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၄ /၂၀၁၃(မနသ)

နေပြည်တော်၊ ၁၃၇၄ ခုနှစ်၊ နတ်တော်လပြည့်ကျော် ၅ ရက်

(၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၂ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော Delta Industrial Group Co., Ltd မှ ရောဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ အမှတ်(၁၃)ရပ်ကွက်၊ ကွင်းအမှတ်(၅၂-စီးပွားဇုန်)၊ မြေကွက်အမှတ်(P-၅)၊ မြေဧရိယာ(၅)ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက် အား(၂-၁-၂၀၁၃) နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁/၂၀၁၃) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Delta Industrial Group Co., Ltd အား CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၈၇၆/ ၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Delta Industrial Group Co., Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ယင်း ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေပေါ်တွင် (၅၀%) အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး သည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား ၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ် သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြ လျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ် ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိ နိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန် ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထား သည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး ၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပ မှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃(ဇ)နှင့် ၁၃(ဈ)အရ ပြည်ပမှတင်သွင်း သည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ တင်သွင်း မည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည် ။

၄။ Delta Industrial Group Co., Ltd. သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများ ကို သီးခြား ပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေနှင့်အဆောက်အဦ အငှားချထားသူ ဦးဇော်လင်းလတ် အငှားချထားခြင်းခံရသူ ဦးအကောက်(ခ) ဦးတင့်ဆွေ (Delta Industrial Group Co., Ltd.) တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုး၍ **ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်** ပြီးသည့်အခါ ယင်း သဘောတူ စာချုပ်မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့ တင်ပြရမည်။

၆။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေး ထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၈။ Delta Industrial Group Co., Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ် ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၉။ Delta Industrial Group Co., Ltd. သည် အဆိုပြုချက်တွင် ဝန်ခံကတိ ပြုထားသည့် အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှု လုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၀။ Delta Industrial Group Co., Ltd. သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထား သော ပုံစံ ဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာ လများ) **မပျက်မကွက်** ပုံမှန် ပေးပို့

အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၂။ Delta Industrial Group Co., Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ ကိုလိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၃။ အဆိုပြု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ် ယူရမည်။

(စိုးသိန်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က)/မ- ၁၂၈၁/၂၀၁၃(၁၅၅ - ဃ)
ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၂ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှု ဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့်အခွန် ဝန်ကြီးဌာန

အမျိုးသား စီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေး နှင့် သတင်းအချက်အလက်နည်းပညာ ဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန

စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်တိုင်းဒေသကြီး

ဥက္ကဋ္ဌ၊CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ၊(အလုပ်သမားဝန်ကြီးဌာန)

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အထည်အလိပ် လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှုဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ အထည်ချုပ်လုပ်ငန်းရှင်များအသင်း၊ ရန်ကုန်မြို့

အုပ်ချုပ်မှုဒါရိုက်တာ၊ Delta Industrial Group Co., Ltd.

M-63
17.1.13




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ
# ကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အမှတ် (၂၉)၊ မင်းရဲကျော်စွာလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း - ၂၁၄၃၄၄/၂၁၄၃၄၅/၂၁၄၃၄၆/၂၁၄၃၄၇/၂၁၄၃၄၈/၂၁၄၃၄၉။ ဖက်(စ်) - ၉၅-၁-၂၁၄၄၈၄


စာအမှတ်။ ဂ/၄-ခ/(၅)/(ဝန်ဆောင်)/၁၁-၁၃(၅၅၃၆)
ရက်စွဲ ။ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၁၁ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ ။သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၇-၁၂-၂၀၁၂ ရက်စွဲပါ စာအမှတ် ရက-မ-၁၂၈၁/၂၀၁၂ (၁၁၉၃၅-၃)

၁။ Delta Industrial Group Co.,Ltd သည် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ အမှတ်(၁၃)ရပ်ကွက်၊ ကွင်းအမှတ် (၅၂-စီးပွားရေးဇုန်)၊ မြေကွက်အမှတ်(P-၅)၊ မြေဧရိယာ(၅)ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်သည့်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအကောက် (ခ) ဦးတင့်ဆွေ (အဘ- ဦးမောင်ချောင်) မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် ဤအသင်းချုပ်သို့ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ညှိနှိုင်းမေတ္တာရပ်ခံစာ ကိုလက်ခံရရှိပါသည်။

၂။ ဤအသင်းချုပ်မှ စိစစ်ခဲ့ရာ Delata Industrial Group Co.,Ltd သည် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ အမှတ်(၁၃)ရပ်ကွက်၊ ကွင်းအမှတ် (၅၂-စီးပွားရေးဇုန်)၊ မြေကွက်အမှတ်(P-၅)၊ မြေဧရိယာ(၅)ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်သည့်လုပ်ငန်းကို လုပ်ကိုင်သင့်ကြောင်း ၊ဧရာဝတီတိုင်း ဒေသကြီးအစိုးရအဖွဲ့ ၏ ၂၀၁၂ ခုနှစ် ဒီဇင်ဘာလ ၂၉ ရက် ၊ ရက်စွဲပါစာအမှတ် ၁၀၀ / ၃-၁/ အစိုးရ (ဧရာဝတီ) ထောက်ခံချက်နှင့်အတူ Delta Industrial Group Co.,Ltd (မြန်မာကုမ္ပဏီ) နှင့် CMP Agreement ချုပ်ဆိုထားသည့် Haiyang Deyifu Clothing Co.,Ltd (တရုတ်နိုင်ငံ) ၏ Company Profile စသည့် အထောက်အထားများ ကိုတင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ Delta Industrial Group Co.,Ltd သည် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ အမှတ်(၁၃) ရပ်ကွက်၊ ကွင်းအမှတ် (၅၂-စီးပွားရေးဇုန်)၊ မြေကွက်အမှတ်(P-၅)၊ မြေဧရိယာ(၅)ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ် လုပ်သည့်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ လျှောက်ထားခြင်းအပေါ် ဤအသင်းချုပ်အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ထောက်ခံတင်ပြအပ် ပါသည်။

ဥက္ကဋ္ဌ ( ကိုယ်စား )
(မြင့်စိုး၊ဘွဲ့ဖက်အထွေထွေအတွင်းရေးမှူး)

မိတ္တူကို-
- လက်ခံစာတွဲ၊မျှောစာတွဲ

MIC - ၁၃၆၄

စားပွဲတင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၂၈၁/၂၀၁၃( ၄၆ )
ရက်စွဲ ၊ ၂၀၁၃ ခုနှစ် ၊ ဇန်နဝါရီ လ ၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Delta Industrial Group Co., Ltd မှ CMP စနစ် ဖြင့် အထည်ချုပ် လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Delta Industrial Group Co., Ltd မှ ဧရာဝတီတိုင်း ဒေသကြီး၊ ပုသိမ်ခရိုင်၊ အမှတ်(၁၃)ရပ်ကွက်၊ ကွင်းအမှတ်(၅၂-စီးပွားဇုန်)၊ မြေကွက်အမှတ်(P-၅)၊ မြေဧရိယာ(၅)ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအကောက် (ခ) ဦးတင့်ဆွေ (အဘ-ဦးမောင်ချောင်) မှ အဆိုပြုချက် တင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။

၂။ ယင်းအဆိုပြုချက် နှင့်စပ်လျဉ်း၍ ဧရာဝတီတိုင်း ဒေသကြီး အစိုးရအဖွဲ့၊ CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ နှင့် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ်တို့သို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ - က)**

(၁) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် ပုသိမ်မြို့၊ အမှတ်(၁၃)ရပ်ကွက်၊ ကွင်းအမှတ်(၅၂-စီးပွားဇုန်)၊ မြေကွက် အမှတ်(P-၅)၊ မြေဧရိယာ(၅)ဧကသည် မြို့ကွက်များ တိုးချဲ့ဖော်ထုတ်စဥ်ကပင် စက်မှုဇုန်လုပ်ငန်းများ ထူထောင်ရန် ရည်ရွယ်၍ ဖော်ထုတ်ထားပါသဖြင့် လက်ရှိမြို့ပြ စီမံကိန်းအား ထိခိုက်မှုမရှိနိုင်သလို နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းကိုလည်း ထိခိုက်မှုမရှိနိုင်ပါကြောင်း၊

(၂) Delta Industrial Group Co., Ltd. ၏ ယခုအဆိုပြုလာသည့် အထည်ချုပ် စက်ရုံပေါ်ပေါက်ပါက တိုင်းဒေသကြီးအတွင်း ပထမဆုံးသော အထည်ချုပ် စက်ရုံဖြစ်သည့်အားလျော်စွာ အလုပ်အကိုင်အခွင့် အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေနိုင် ပါကြောင်း၊

(၃) အဆိုပြု လျှောက်ထားသည့် မြေနေရာသည် မြို့ကွက်ဖော်ထုတ်စဥ်ကပင် စီးပွားရေး လုပ်ငန်းများနှင့် စက်မှုလုပ်ငန်းများတွင် ရင်းနှီးမြှုပ်နှံ လုပ်ကိုင်နိုင်ရန် ရည်ရွယ်၍ ဖော်ထုတ်ထားသည့် နေရာဖြစ်သဖြင့် ယခု အထည်ချုပ် စက်ရုံ

တည်ဆောက်ခြင်းဖြင့် လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု တို့ အရ ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊

(၄) ဧရာဝတီတိုင်း ဒေသကြီး အစိုးရ အနေဖြင့် ပြောင်းလဲလာသည့် ခေတ်စနစ်၊ ဥပဒေများ နှင့်အညီ တိုင်းဒေသကြီး အတွင်းရှိ ဒေသခံပြည်သူအလုပ်အကိုင် အခွင့်အလမ်းရရှိစေရေး တို့ကို ဦးစားပေးဆောင်ရွက်လျက်ရှိပါသဖြင့် ယခု အဆိုပြု တင်ပြလာသည့် Delta Industrial Group Co., Ltd. ၏ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းသည် ဧရာဝတီတိုင်းဒေသကြီး အတွင်း အကျိုးရှိ စေမည့် လုပ်ငန်းဖြစ်ပါသဖြင့် လိုအပ်သလို ခွင့်ပြုပေးနိုင်ပါရန် အကြံပြု တင်ပြ အပ်ပါကြောင်း၊

၃။ လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည့်အပြင် ကိုယ်ပိုင် Genertor ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၄။ လုပ်ငန်း အဆိုပြုချက်ကို **(နောက်ဆက်တွဲ - ခ)** ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီး မြှုပ်နှံမှု ပမာဏမှာ စုစုပေါင်း ကျပ် (၁၃၆၀.၆၇) သန်းဖြစ်ပြီး၊ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ တန်ဖိုး ကျပ် (၂၄၆.၂၃)သန်းဖိုးအား ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ငွေသား | ကျပ် ၂၀၀.၀၀ သန်း |
| (ခ) | အဆောက်အဦး | ကျပ် ၉၀၇.၂၀ သန်း |
| (ဂ) | စက်ပစ္စည်းကိရိယာများ | ကျပ် ၂၄၆.၂၃ သန်း(US$ ၀.၃၁ သန်းအပါအဝင်) |
| (ဃ) | ပရိဘောဂ | ကျပ် ၇.၂၄ သန်း |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | ကျပ် ၁၃၆၀.၆၇ သန်း(US$ ၀.၃၁ သန်းအပါအဝင်) |

၅။ အဆိုပြုလုပ်ငန်းမှ ချုပ်လုပ်ပြီးအထည်များကို ပြည်ပသို့ (၉၉) ရာခိုင်နှုန်း တင်ပို့ ရောင်း ချပြီး ပြည်တွင်း၌ (၁)ရာခိုင်နှုန်း ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(၅-နှစ်မြောက်)တွင် ထုတ်လုပ် နိုင်မှု နှင့် CMP လက်ခနှုန်း၊ ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) | CMP လက်ခတစ် ဒါဇင် နှုန်း (US$) | တစ်ဒါဇင် ပြည်တွင်း ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | Shirt | ၁၀၄ | ၁၀.၈၀ | ၁၂၉၆၀ |
| (ခ) | Jackets | ၆၅ | ၁၆.၂၀ | ၁၉၄၄၀ |
| (ဂ) | Trouser | ၉၁ | ၁၀.၈၀ | ၁၂၉၆၀ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေ မှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

အမေရိကန်တစ်ဒေါ်လာ= ၈၀၀ကျပ်

| စဉ် | | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၃.၁၂ | ၂၄၉၆.၀၀ | ၃၇.၉၁ | ၂၅၃၃.၉၁ |
| (ခ) | အသုံးစရိတ် | - | - | ၂၂၂၅.၃၅ | ၂၂၂၅.၃၅ |
| (ဂ) | အသားတင် အမြတ် | ၃.၁၂ | ၂၄၉၆.၀၀ | (-)၂၁၈၇.၄၄ | ၃၀၈.၅၆ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၅-နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန်ကျပ် ( ၁၀၂.၂၃ )သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၁.၈၉)သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ (၃) နှစ် (၉) လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၅.၀၉) ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား(၁၆၁၅)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ဝန်ထမ်းသက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေး အတွက် အမျိုးသား၊ အမျိုးသမီး နားနေခန်းများ၊ ထမင်းစားခန်းများ၊ ရုံးအားလပ်ရက်အဖြစ် အပတ်စဉ် တနင်္ဂနွေနေ့ နှင့် အစိုးရရုံး ပိတ်ရက်များ အတိုင်းသတ်မှတ်ပေးခြင်း၊ တစ်နှစ်လျှင် တစ်ကြိမ် ဆုကြေးများ ချီးမြှင့်ပေးခြင်း စီစဉ် ပေးထားပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၉။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် အင်းဝ ဘဏ်လီမိတက် ကျောက်တံတား ဘဏ်ခွဲ ရှိ (၂၄-၁၀-၂၀၁၂) နေ့ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် (၆၀၀.၀၀) သန်း တင်ပြထားရာ လုပ်ငန်းတွင် သုံးစွဲမည့် ငွေကျပ် (၁၃၆၀.၆၇) သန်း ၏ (၄၄%) ရှိကြောင်း တင်ပြထားကြောင်း စိစစ်ရပါသည် ။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် နှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန တွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည် ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ နိုင်ငံခြားငွေဖြင့် ရရှိသော အခကြေးငွေများကို မြန်မာနိုင်ငံခြား ကုန်သွယ်မှုဘဏ် နှင့် မြန်မာ့ ရင်းနှီးမြှုပ်နှံမှု နှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။

၁၁။ **စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ငန်း အတွက် တင်သွင်းမည့် စက်ပစ္စည်းတန်ဖိုး အမေရိကန်ဒေါ်လာ(၀.၃၁)သန်း အတွက် နိုင်ငံခြားငွေ အထောက်အထား တင်ပြထားခြင်း မရှိပါ။

(ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၂။ သို့ဖြစ်ပါ၍ Delta Industrial Group Co., Ltd မှ ဧရာဝတီတိုင်း ဒေသကြီး၊ ပုသိမ်ခရိုင်၊ အမှတ်(၁၃)ရပ်ကွက်၊ ကွင်းအမှတ်(၅၂-စီးပွားဇုန်)၊ မြေကွက်အမှတ်(P-၅)၊ မြေဧရိယာ (၅)ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြခြင်းအပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

နောက်ဆက်တွဲ (က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၁၀၀/၃ - ၁/အစိုးရ(ဧရာဝတီ)

ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ ၂၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်လည်တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၁၂-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ရက-မ (က)/မ-၁၂၈၁/၂၀၁၂ (၁၁၉၃)၅-င

၁။ Delta Industrial Group Co., Ltd မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့၊ အမှတ်(၁၃)ရပ်ကွက်၊ ကွင်းအမှတ် (၅၂-စီးပွားဇုန်)၊ မြေကွက်အမှတ်(P-၅)၊ မြေဧရိယာ(၅)ဧကအား ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအကောက်(ခ)ဦးတင့်ဆွေ (အဘ- ဦးမောင်ချောင်)၏ အဆိုပြုချက်အား စိစစ်ပြီး သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ အောက်ဖော်ပြပါအချက်များအား လိုအပ်သလိုဆက်လက်ဆောင်ရွက်နိုင်ပါရန် သဘောထားပေးပို့တင်ပြအပ်ပါသည်-

(က) **ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့်(သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ**

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ပုသိမ်မြို့၊ အမှတ်(၁၃)ရပ်ကွက်၊ ကွင်းအမှတ်(၅၂-စီးပွားဇုန်)၊ မြေကွက်အမှတ်(p-၅)၊ မြေဧရိယာ(၅)ဧကသည် မြို့ကွက်များတိုးချဲ့ဖော်ထုတ်စဉ်ကပင် စက်မှုလုပ်ငန်းများ ထူထောင်ရန်ရည်ရွယ်၍ ဖော်ထုတ်ထားပါသဖြင့် လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိနိုင်သလိုနောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းအားလည်း ထိခိုက်မှုမရှိနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ခ) **မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/မဖြစ်**

Delta Industrial Group Co., Ltd ၏ ယခုအဆိုပြုလာသည့် အထည်ချုပ်စက်ရုံ ပေါ်ပေါက်လာပါက တိုင်းဒေသကြီးအတွင်း ပထမဆုံးသောအထည်ချုပ်စက်ရုံဖြစ်သည့်

အားလျော်စွာ ဒေသခံပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ဂ) **ဖော်ပြပါမြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ**

အဆိုပြုလျှောက်ထားလာသည့်နေရာသည် မြို့ကွက်ဖော်ထုတ်စဉ်ကပင် စီးပွားရေး လုပ်ငန်းများနှင့် စက်မှုလုပ်ငန်းများတွင် ရင်းနှီးမြုပ်နှံလုပ်ကိုင်နိုင်ရန်ရည်ရွယ်၍ ဖော်ထုတ်ထားသည့်နေရာဖြစ်သဖြင့် ယခုအထည်ချုပ်စက်ရုံတည်ဆောက်ခြင်းဖြင့် လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်းမရှိပါကြောင်း ထောက်ခံအပ်ပါသည်။

(ဃ) **တိုင်းဒေသကြီးအစိုးရအဖွဲ့၏အကြံပြုချက်**

တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ပြောင်းလဲလာသည့် ခေတ်စနစ်၊ ဥပဒေများနှင့်အညီ တိုင်းဒေသကြီးအတွင်းရှိ ဒေသခံပြည်သူအလုပ်အကိုင်အခွင့်အလမ်းရရှိစေရေးတို့ကို ဦးစားပေးဆောင်ရွက်လျက်ရှိပါသဖြင့် ယခုအဆိုပြုလာသည့် Delta Industrial Group Co., Ltd ၏ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းသည် ဧရာဝတီတိုင်းဒေသကြီး အတွင်း အကျိုးရှိစေမည့်လုပ်ငန်းဖြစ်ပါသဖြင့် လိုအပ်သလိုခွင့်ပြုပေးနိုင်ပါရန် အကြံပြုတင်ပြအပ်ပါသည်။

( သိန်းအောင် )
ဝန်ကြီးချုပ်

မိတ္တူကို

အုပ်ချုပ်မှုဒါရိုက်တာ၊ Delta Industrial Group Co., Ltd
လှည့်လည်စာတွဲ
ရုံးလက်ခံ



၁၆၅၅/၁

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ပြည်ထောင်စုအစိုးရအဖွဲ့ရုံး**

စာအမှတ်၊ ၁၂၃/၃၄၉-မြေဂရန်၁-၂၅/အဖရ(၂၀၁၃)
ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၁၈ ရက်

သို့

ဝန်ကြီးချုပ်
ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ **ပြည်ပပို့ CMP အထည်ချုပ်လုပ်ငန်းလုပ်ကိုင်ရန် တင်ပြသည့်ကိစ္စ**

ရည် ညွှန်း ချက်။ (၁) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၆-၁၁-၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ၃၀၀/၄-၁(၉၅၀)အစိုးရ(ဧရာဝတီ)/ထောက် ၁

(၂) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ ၂၀-၁၂-၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ၂/၂၂၀(ခ)(၃)/(၆၆၈၅/၂၀၁၂)

(၃) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ ၁၀-၁-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၄/၁၀(က)(၆)(၀၆၉/၂၀၁၃)

၁။ Delta Industrial Group Co., Ltd က CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း လုပ်ကိုင်ရန် အဆိုပြုချက်အရ ၁၉၉၇ ခုနှစ်တွင် စက်မှုစီးပွားရေးဇုန်မြေအဖြစ် သတ်မှတ်ထားပြီး လက်တွေ့အသုံးချနိုင်ခြင်းမရှိ၍ ကွက်လပ်ဖြစ်နေသော ပုသိမ်မြို့၊ အမှတ်(၁၃)ရပ်ကွက်၊ အကွက်အမှတ် (၅၂)၊ (စီးပွားဇုန်အကွက်)၊ ဦးပိုင်အမှတ်(P-1)မှ(P-5)အထိ စုစုပေါင်းမြေ (၁၄၆.၅၀၂)ဧကတွင် စက်ရုံတည်ဆောက်ရန် လျာထားသတ်မှတ်ပေးခဲ့ရာ အဆိုပါမြေအား မြေဂရန် လျှောက်ထားခွင့်ပြုပါရန် ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါ တင်ပြမှုနှင့်ပတ်သက်၍ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်တင်ပြမှုများအရ အောက်ပါအတိုင်း တွေ့ရှိရပါသည်-

(က) ယခင်အစိုးရက စက်မှုစီးပွားရေးဇုန်အဖြစ်သတ်မှတ်၍ လန(၃၉) ခွင့်ပြုခဲ့ပြီးဖြစ်ခြင်း၊

(ခ) ထွန်းလင်းရောင်ကုမ္ပဏီကို ခွင့်ပြုပြီး(၂.၇၅၅) ဧကမှလွဲ၍ ကျန်(၁၄၆.၅၀၂)ဧကအား ရင်းနှီးမြှုပ်နှံလိုသူများလျှောက်ထားလာပါက အဆောက်အဦဆောက်လုပ်ခွင့် တင်ပြဆောက်လုပ်ပြီးလျှင် မြေဂရန်ထုတ်ပေးနိုင်ခြင်း၊

(ဂ) တိုင်းဒေသကြီး/ပြည်နယ်အလိုက် အလုပ်အကိုင်နှင့်လူမှုစီးပွား တိုးတက်ရေးအတွက် CMP လုပ်ငန်းများ အမြန်အကောင်အထည်ဖော် ဆောင်ရွက်သင့်ခြင်း။

၃။ အထက်ပါအခြေအနေများကြောင့် အောက်ပါအချက်များနှင့်အညီ စီမံခန့်ခွဲ ဆောင်ရွက်သင့်ပါသည်-

(က) ယခင်အစိုးရသတ်မှတ်ခွင့်ပြုထားခဲ့သည့် စက်မှုစီးပွားရေးဇုန် (၁၄၉.၂၅၇) ဧကအား တိုင်းဒေသကြီးအစိုးရအဖွဲ့က စက်မှုဇုန်အဖြစ် ဆက်လက်သတ်မှတ် စီမံခန့်ခွဲခွင့်ပြုကြောင်းနှင့် စီမံခန့်ခွဲမှုကော်မတီဖွဲ့စည်း ဆောင်ရွက်သွားရန်၊

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့်ကုမ္ပဏီသည် Developer အဖြစ် လမ်း၊ တံတား၊ ရေ၊ မီး၊ အခြေခံအဆောက်အအုံတည်ဆောက်ရန် လိုအပ်ပါက စီမံခန့်ခွဲမှုကော်မတီနှင့် Developer အကြားစာချုပ်ချုပ်ဆို၍ အကျိုးအမြတ်ခွဲဝေမှု၊ မြေငှားခ အခွန်အကောက်ဆိုင်ရာကိစ္စများအား ဆောင်ရွက်နိုင်ကြောင်းနှင့် Developer အပြိုင်ရှိက Open Tender ဆောင်ရွက်နိုင်ရန်၊

(ဂ) အကယ်၍ အခြေခံအဆောက်အဦ မလိုအပ်ဘဲ တိုက်ရိုက်ရင်းနှီးမြှုပ်နှံသည့် ပြည်တွင်းပြည်ပကုမ္ပဏီကို လက်ခံဆောင်ရွက်မည်ဆိုပါကလည်း လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန်၊

(ဃ) ပြည်ပကုမ္ပဏီဖြစ်ပါက မြေပိုင်ဆိုင်သူက ငှားရမ်းစာချုပ်ဖြင့် ငှားရမ်း၍ ရင်းနှီးမြှုပ်နှံရန်၊

(င) ပြည်တွင်းပြည်ပ ရင်းနှီးမြှုပ်နှံမှုများအားလုံးအတွက် MIC သို့ တင်ပြဆောင်ရွက်ရန်၊

(စ) ရန်ကုန်ရှိ စက်မှုဇုန်အားလုံးတွင် အဆောက်အဦဆောက်လုပ်ပြီးမှ မြေဂရန်ထုတ်ပေးလေ့ရှိသဖြင့် လုပ်ထုံးလုပ်နည်းအတိုင်းဆောင်ရွက်ရန်။

၄။ သို့ဖြစ်ပါ၍ စက်မှုဇုန်များတည်ထောင်ခြင်းကို ခွင့်ပြုထားသည့် တည်ဆဲဥပဒေများရှိပါက ယင်းတည်ဆဲဥပဒေများနှင့်အညီ ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ဇော်သန်းသင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ
- နိုင်ငံတော်သမ္မတရုံး
- ဒုတိယသမ္မတ(၂)ဦးစီးရုံး
- သမ္မတရုံးဝန်ကြီးဌာန(၅)
- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
- ရုံးလက်ခံ
- မျှောစာတွဲ

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်

ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

**အဆိုပြုချက်**

မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီလီမိတက်

၏

**C.M.P** စနစ်ဖြင့်

ဆောင်ရွက်သည့် အထည်ချုပ်လုပ်ငန်း

* * * * * * * * *

**PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZEN INVESTMENT IN THE REPUBLIC OF THE UNION OF MYANMAR**

**DELTA INDUSTRIAL GROUP COMPANY LIMITED.**



# DELTA INDUSTRIAL GROUP COMPANY LIMITED

Building 1, Room No(111), Yangon City Hotle, Mayangone Township. Phone- 01-656799

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)၊နေပြည်တော်။

နေ့စွဲ။ ။၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာ လ၊(၂၂)ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်တော်တို့ မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စုကုမ္ပဏီလီမိတက်အနေဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ပုသိမ်မြို့၊ အမှတ်(၁၃) ရပ်ကွက်၊ ကွင်းအမှတ်-(၅၂-စီးပွားဖုန်)၊မြေကွက်အမှတ်-(p-၅)၊မြေဧရိယာ (၅)ဧကရှိ မြေနေရာတွင် နိုင်ငံတကာအဆင့်မီ အထည်ချုပ်စက်ရုံတည်ဆောက်ပြီး စက်ပစ္စည်းများ၊ခေတ်မီနည်းပညာများအသုံးပြု၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် လျှောက်ထားသည့်ကုမ္ပဏီဖြစ်ပါသည်။

သို့ပါ၍ ကျွန်တော်တို့ကုမ္ပဏီ၏အဆိုပြုလွှာကို လိုအပ်သလိုစိစစ်ပေးနိုင်ပါရန် လေးစားစွာဖြင့် ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးအကောက် (ခ) တင့်ဆွေ
(အုပ်ချုပ်မှုဒါရိုက်တာ)
DELTA INDUSTRIAL GROUP CO., LTD.




# DELTA INDUSTRIAL GROUP COMPANY LIMITED

Building 1, Room No(111), Yangon City Hotle, Mayangone Township. Phone- 01-656799


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)၊နေပြည်တော်။

နေ့စွဲ။ ။၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာ လ၊(၂၂) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များလျှောက်ထားခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်တို့ မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီလီမိတက်အနေဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ပုသိမ်ခရိုင်၊ပုသိမ်မြို့၊အမှတ်-(၁၃)ရပ်ကွက်၊ ကွင်းအမှတ်-(၅၂-စီးပွားဖုန်)၊မြေကွက်အမှတ်(p-၅)၊မြေဧရိယာ-(၅)ဧကရှိ မြေနေရာတွင် နိုင်ငံတကာအဆင့်မီ အထည်ချုပ်စက်ရုံတည်ဆောက်ပြီး စက်ပစ္စည်းများ၊ခေတ်မီနည်းပညာများအသုံးပြု၍ CMP စနစ်ဖြင့်အထည်ချုပ် လုပ်ငန်း လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီခွင့်ပြုမိန့် ထုတ်ပေးနိုင်ပါရန် လျှောက်ထားသည့် ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်တို့ကုမ္ပဏီအနေဖြင့်အထည်ချုက်စက်ရုံလုပ်ငန်းလုပ်ကိုင်ရန်အတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ်(၁၃၆၀.၆၇)သန်းရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ထုတ်လုပ်ဖြန့်ဖြူးရောင်းချ၍ရရှိသောအမြတ်ငွေများကိုလည်း မြန်မာနိုင်ငံအတွင်းအခြားခွင့်ပြုထားသည့်စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးထားရန်ရည်ရွယ်ပါသည်။

အထည်ချုပ်စက်ရုံမှချုပ်လုပ်ပြီးသောအဝတ်အထည်များ၏ ၉၉% ကိုပြည်ပသို့တင်ပို့မည်ဖြစ်ပြီး ၁% ကိုပြည်တွင်းကျပ်ငွေဖြင့် ရောင်းချမည်ဖြစ်ပါသည်။ထို့အပြင် Order ရရှိမှုအပေါ်မူတည်၍အသင့်ဝတ်ဆင်နိုင်သော အထည်အမျိုးမျိုးကို ပြောင်းလဲချုပ်မည်ဖြစ်ပါသည်။

ကျွန်တော်တို့ကုမ္ပဏီတွင် အဆိုပြုလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရန် ကျွမ်းကျင်သူပညာရှင်များနှင့် လုပ်ငန်းအတွေ့အကြုံရှိသူများပါဝင်ပါသည်။ပြည်တွင်းမှလုပ်သားများကိုအတတ်ပညာများသင်ကြားပေးခြင်းဖြင့် နည်းပညာများရယူနိုင်မည်ဖြစ်သောကြောင့် နိုင်ငံခြားဝင်ငွေရရှိခြင်း၊လုပ်သားများအလုပ်အကိုင်သစ်များရရှိခြင်း နှင့်နည်းပညာရပ်များရယူနိုင်မည်ဖြစ်ပါသည်။




# DELTA INDUSTRIAL GROUP COMPANY LIMITED

Building 1, Room No(111), Yangon City Hotle, Mayangone Township. Phone- 01-656799

သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက်ရသင့်ရထိုက်သောအခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက်အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရန်အတွက်လည်းကောင်း၊စက်မှုနည်းပညာရပ်များတိုးတက်လာစေရန်အတွက်လည်းကောင်း၊မြန်မာနိုင်ငံတော်စီးပွားရေးတိုးတက်စေရန် အတွက်လည်းကောင်း၊ ကျွန်တော်တို့ကုမ္ပဏီ၏ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ အထည်ချုပ်စက်ရုံ လုပ်ငန်းဆောင်ရွက်နိုင်ပါရန်ခွင့်ပြုမိန့်လျှောက်ထားခြင်းကိုလက်ခံစဉ်းစားပေးပါရန်လျှောက်ထားအပ်ပါသည်။ထို့အပြင်ပြည်ထောင်စုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် လေးစားစွာဖြင့်လျှောက်ထားအပ်ပါသည်။

အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်မှုကော်မရှင်အနေဖြင့်ခွင့်ပြုမိန့်ထုတ်ပေးပါရန် ဤလျှောက်လွှာနှင့်အတူအောက်ဖော်ပြပါအထောက်အထား၊စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ အဆိုပြုချက်၊

(ခ) ဘဏ္ဍာရေးအချက်အလက်နှင့်ပါတ်သက်၍တွက်ချက်မှုဇယားများ၊

(ဂ) မြေပိုင်ဆိုင်မှုအထောက်အထားများ၊

(ဃ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးအထောက်အထားများ၊

(င) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ(မူကြမ်း)။

လေးစားစွာဖြင့်

ဦးအကောက် (ခ) တင့်ဆွေ
(အုပ်ချုပ်မှုဒါရိုက်တာ)
DELTA INDUSTRIAL GROUP CO.,LTD.



# DELTA INDUSTRIAL GROUP COMPANY LIMITED

Building 1, Room No(111), Yangon City Hotle, Mayangone Township. Phone- 01-656799

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)၊နေပြည်တော်။

နေ့စွဲ။ ။ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာ လ၊(၂၂ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ကျွန်တော်တို့ မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စုကုမ္ပဏီလီမိတက်အနေဖြင့်ဧရာဝတီတိုင်းဒေသကြီး၊ပုသိမ်ခရိုင်၊ပုသိမ်မြို့၊အမှတ်(၁၃)ရပ်ကွက်၊ကွင်းအမှတ်-(၅၂-စီးပွားဇုန်)၊မြေကွက်အမှတ်-(P-၅) မြေဧရိယာ(၅)ဧကရှိ မြေနေရာတွင် နိုင်ငံတကာအဆင့်မီအထည်ချုပ်စက်ရုံတည်ဆောက်ပြီးစက်ပစ္စည်းများ၊ခေတ်မီနည်းပညာများအသုံးပြု၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်လျှောက်ထားသည့် ကုမ္ပဏီဖြစ်ပါသည်။ထိုသို့လျှောက်ထားရာတွင် ခွင့်ပြုမိန့်ရရှိရန်အတွက် အောက်ပါတို့ကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံကတိပြု တင်ပြအပ်ပါသည်။

(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်းကိုလည်း ဝန်ခံကတိပြုပါသည်။

(ဂ) ဤစက်ရုံမှ ထွက်ရှိလာသည့် ကုန်ချောပစ္စည်းများအတွက် ပြည်ပသို့ (၉၉)ရာခိုင်နှုန်းတင်ပို့မည်ဖြစ်ပြီး၊ပြည်တွင်းတွင် (၁)ရာခိုင်နှုန်း ရောင်းချမည်ဖြစ်ပါသည်။

(ဃ) နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(င) ထို့အပြင် ကျွန်တော်များ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန် အတွက်လိုအပ်သောအစီအမံများ၊မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့်ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ နည်းဥပဒေစည်းမျဉ်း၊စည်းကမ်း၊လုပ်ထုံးလုပ်နည်းများနှင့်အညီပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(စ) မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီလီမိတက်အနေဖြင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးမှုညွှန်ကြားရေးဦးစီးဌာနတို့တွင် မှတ်ပုံတင်ထားရှိမည် ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးအကောက် (ခ) တင့်ဆွေ
(အုပ်ချုပ်မှုဒါရိုက်တာ)
DELTA INDUSTRIAL GROUP CO., LTD.



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ ( မနသ - ၁ )

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
# ( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် ၊

ရက်စွဲ ။ ။၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာ လ ၊ (၂၂ )ရက်။

ကျွန်တော် / ကျွန်မသည်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့်ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါအချက်များကိုဖော်ပြ၍လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | | |
|---|---|---|
| (က) အမည် | - | ဦးအကောက် (ခ) တင့်ဆွေ |
| (ခ) အဖအမည် | - | ဦးမောင်ချောင် |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - | ၁၄/ဝ ခ မ (နိုင်) ၁၃၅၁၄၈ |
| (ဃ) နေရပ်လိပ်စာ | - | အမှတ်-င/၄၄၊ငုဝါလမ်း၊ရပ်ကွက် အမှတ်-(၁)၊မရမ်းကုန်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။ |
| (င) လူမျိုး၊ ဘာသာ | - | တရုတ် /ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | - | မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာ အုပ်စု ကုမ္ပဏီလီမိတက် DELTA INDUSTRIAL GROUP CO.,LTD. |
| (ဆ) လုပ်ငန်းအမျိုးအစား | - | C.M.P စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း။ |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | - | မြေကွက်အမှတ်-(p -၅)၊ကွင်းအမှတ်-(၅၂-စီးပွားဇုန်)၊အမှတ်-(၁၃)ရပ်ကွက်၊ ပုသိမ်ခရိုင်၊ပုသိမ်မြို့၊ ဧရာဝတီတိုင်းဒေသကြီး။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုမည့်သူများ၏ –

(က) အမည် –..............................................................

(ခ) အဖအမည် –..............................................................

(ဂ) နိုင်ငံသား / အမျိုးသားမှတ်ပုံတင်အမှတ် –..............................................................

(ဃ) နေရပ်လိပ်စာ –..............................................................

(င) လူမျိုး၊ ဘာသာ –..............................................................

(စ) အဖွဲ့အစည်းအမည် – DELTA INDUSTRIAL GROUP CO.,LTD.

(ဆ) လုပ်ငန်းအမျိုးအစား – C.M.P စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း။

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် --------------------------------
--------------------------------
--------------------------------

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား –

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း –

(ခ) ဝန်ဆောင်မှုလုပ်ငန်း – C.M.P စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း။

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ –

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း –လီမိတက်ကုမ္ပဏီ (နောက်ဆက်တွဲဖော် –၁)

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း –..............................................................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း –..............................................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်–

(က) တစ်ဦးတည်းပိုင် –..........................................................

(ခ) ဖက်စပ် / အစုစပ်လုပ်ငန်း –..........................................................

(ဂ) လီမိတက် ကုမ္ပဏီ –မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီ လီမိတက်

DELTA INDUSTRIAL GROUP CO.,LTD.

(နောက်ဆက်တွဲဖယား – ၁ )

၆။ ဖက်စပ် / အစုစပ်လုပ်ငန်းဖြစ်ပါက –

(က) အစုဝင်တို့က ထည့်ဝင်မည့်အစုငွေ အမျိုးအစားနှင့် ပမာဏ –..........................................................

(ခ) အကျိုးအမြတ် ခွဲဝေမည့်အမျိုးအစား –..........................................................

(ဂ) အစုဝင်များ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ –..........................................................

၇။ သမဝါယမအသင်း / လီမိတက်ကုမ္ပဏီဖြစ်ပါက –

(က) ခွင့်ပြုမတည်ငွေရင်း –ကျပ်၅၀၀,၀၀၀,၀၀၀ (ကျပ်သန်းငါးရာတိတိ)

(ခ) အစုရှယ်ယာအမျိုးအစား –တစ်စုလျှင်ကျပ် ၁၀၀,၀၀၀ (ကျပ်တစ်သိန်း တိတိ) တန်သာမန်အစုရှယ်ယာ ၅,၀၀၀(ငါးထောင်တိတိ)

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ –ကျပ် ၁,၃၆၀,၆၇၂,၀၀၀/– တစ်စုလျှင် ကျပ် ၁၀၀,၀၀၀/– (ကျပ်တစ်သိန်းတိတိ)တန်အစုရှယ်ယာ ၁၃၆၀၇

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပါက ခွင့်ပြုမတည်ငွေရင်းကို တိုးမြှင့်သွားမည်ဖြစ်ပါသည်။

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ –

(က) မတည်ငွေရင်းပမာဏ (ယခုအဆိုပြုလုပ်ငန်းအတွက်)

| | | ကျပ် (ထောင်) | အမေရိကန်ဒေါ်လာ | စုစုပေါင်း (ကျပ်) (ထောင်) |
|---|---|---|---|---|
| (၁) | ငွေပမာဏ | ၂၀၀,၀၀၀ | – | ၂၀၀,၀၀၀ |
| (၂) | အဆောက်အဦး (နောက်ဆက်တွဲဖယား–၃) | ၉၀၇,၂၀၀ | – | ၉၀၇,၂၀၀ |
| (၃) | ပရိဘောဂ (နောက်ဆက်တွဲဖယား–၄) | ၇,၂၄၀ | – | ၇,၂၄၀ |
| (၄) | စက်ပစ္စည်း၊စက်ကိရိယာများ (နောက်ဆက်တွဲဖယား–၅) | | ၁၀၇,၇၉၀ | ၂၄၆,၂၃၂ |
| စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | | ၁,၁၁၄,၄၄၀ | ၁၀၇,၇၉၀ | ၁,၃၆၀,၆၇၂ |

| | | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|---|
| (ခ) | နိုင်ငံခြားမှတင်သွင်းရန် လိုအပ်သည့် (ယခုအဆိုပြုလုပ်ငန်းအတွက်) | | |
| | (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ၏တန်ဖိုး (နောက်ဆက်တွဲဇယား-၅) | ၂၄၆,၂၃၂,၀၀၀ | ၃၀၇,၇၉၀ |
| | (၂) အဆောက်အဦးဆောက်လုပ်ရေး ကုန်ကြမ်းပစ္စည်းတန်ဖိုး | - | - |
| | (၃) ကျွမ်းကျင်မှုနည်းပညာရပ်၏တန်ဖိုးပမာဏ | - | - |
| | စုစုပေါင်း | ၂၄၆,၂၃၂,၀၀၀ | ၃၀၇,၇၉၀ |

(ဂ) တည်ဆောက်မှုကာလ - (၁) နှစ်

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ - (၂) လ

(င) တည်ဆောက်မှုစတင်မည့်အချိန် - မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိသည့်နေ့မှစ၍ စတင်ဆောင်ရွက်ပါမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား - C.M.P စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း။

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - အမှတ်-(၁၃)ရပ်ကွက်၊ပုသိမ်ခရိုင်၊ ပုသိမ်မြို့၊ဧရာဝတီတိုင်းဒေသကြီး။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - C.M.P စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း။

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်

| အမျိုးအမည် | | အရေအတွက် |
|---|---|---|
| ၁။ ဒီဇယ်ဆီ | - | ဂါလံ (၁၅၀၀၀၀) |
| ၂။ ဓါတ်ဆီ | - | ဂါလံ (၂၅၀၀) |
| ၃။ စက်ဆီ၊ ချောဆီ | - | ဂါလံ (၅၀၀) |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်

| | | |
|---|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | - | ၅၀၀ KVA |
| ၂။ ဓါတ်ဆီ၊ဒီဇယ် အင်ဂျင်စက်အား | - | ၅၀၀ KVA |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | - | |
| ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | - | |
| ၅။ ပေးပို့သည့် အခြားအား (ရေအား/ လေအားစသည်များ) | - | |

(စ) နှစ်စဉ်ရေလိုအပ်ချက် -

| | | |
|---|---|---|
| ၁။ တစ်နေ့ရေလိုအပ်ချက်ဂါလံ | - | ဂါလံ (၆၀၀၀) |
| ၂။ တစ်နှစ်ရေလိုအပ်ချက် | - | ဂါလံ (၁,၈၀၀,၀၀၀) |

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ ကုန်ကြမ်းလိုအပ်ချက် - နောက်ဆက်တွဲဇယား(၆)

(ဇ) အဆောက်အဦးလိုအပ်ချက် - နောက်ဆက်တွဲဇယား(၃)

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း – (၅) ဧက

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ ဆောင်ရွက်မည့်ဝန်ဆောင်မှု – နောက်ဆက်တွဲဇယား (၆)

(ဋ) ရောင်းချမည့်စနစ် – ပြည်ပတင်ပို့မှု (၉၉)%၊ ပြည်တွင်းရောင်းချမှု (၁)%

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ–

| | | ခန့်မှန်းခြေ(ကျပ်ငွေ) |
|---|---|---|
| (က) | လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲဇယား – (၈) |
| (ခ) | လိုအပ်မည့်နိုင်ငံခြားငွေ | |
| (ဂ) | ရရှိမည့် နိုင်ငံခြားငွေပမာဏ | နောက်ဆက်တွဲဇယား – (၆) |
| (ဃ) | ပြည်ပသို့တင်ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ | နောက်ဆက်တွဲဇယား – (၆) |
| (င) | နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ | နောက်ဆက်တွဲဇယား – (၆) |

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများစာရင်း–

(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်းများ နောက်ဆက်တွဲဇယား – (၁၀)

(ခ) နိုင်ငံခြားမှ လိုအပ်မည့်ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ–

| | | ခန့်မှန်းခြေ (ကျပ်ငွေ) |
|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲဇယား – (၇) |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲဇယား – (၇) |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲဇယား – (၇) |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲဇယား – (၂) |
| (င) | အရင်းကျေကာလ | နောက်ဆက်တွဲဇယား – (၉) |
| (စ) | အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲဇယား – |
| (ဆ) | အလုပ်အကိုင်အသစ်များ ပေါ်ပေါက်လာမည့် အခြေအနေ | နောက်ဆက်တွဲဇယား – (၁၀) |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့်စပ်လျဉ်းသည့် အထောက်အထားများ၊အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါအထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်ကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိဖွဲ့စည်းပြီးအဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း/ ဖွဲ့စည်းခြင်းမရှိသေးပါကသင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

(လျှောက်ထားသူ)

လက်မှတ်၊

အမည်၊ ဦးအကောက် (ခ) တင့်ဆွေ

ရာထူး၊ အုပ်ချုပ်မှုဒါရိုက်တာ

DELTA INDUSTRIAL GROUP CO., LTD.

Exhibit No. I

**DELTA INDUSTRIAL GROUP CO., LTD.**

မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီလီမိတက်

**DIRECTORS LIST**

ဒါရိုက်တာများစာရင်း

| စဉ် | ဒါရိုက်တာအမည် | မှတ်ပုံတင်အမှတ် | ရာထူး | လိပ်စာ |
|---|---|---|---|---|
| ၁ | ဦးအကောက်(ခ)တင့်ဆွေ | ၁၄/ဝ ခ မ (နိုင်) ၁၃၅၁၄၈ | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်-(င/၄၄)၊ငုဝါလမ်း၊ရပ်ကွက်အမှတ်-(၁)၊မရမ်းကုန်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။ |
| ၂ | ဦးသံမင်း | ၁၄/ပ သ န (နိုင်) ဝ၁၃၅၆၉ | ဒါရိုက်တာ | အမှတ်-(၅၄)၊လှည်းတန်းလမ်းမကြီး၊ရပ်ကွက်အမှတ်-(၃)၊ကမာရွတ်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။ |

## DELTA INDUSTRIAL GROUP CO.,LTD.

## CAPITAL COST

(Kyats in Thousand)

Exhibit No.II

| Sr No | Particular | US$ | Kyats | Total |
|---|---|---|---|---|
| 1 | 2 | 3 | 4 | 5 |
| 1 | **Investment Type.** | | | |
| A | **LOCAL CAPITAL** | | | |
| 1 | In Cash | | 200,000 | 200,000 |
| 2 | Factory Building | | 907,200 | 907,200 |
| 3 | In Furniture | | 7,240 | 7,240 |
| 4 | In Machineries & Equipment | 307,790 | | 246,232 |
| | **TOTAL CAPITAL** | **307,790** | **1,114,440** | **1,360,672** |

Exchange Rate 1US$ = Kyats 800

မနသပုံစံ(၁) အပိုဒ်(တ)

# မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီလီမိတက်

## ရင်းနှီးမြှုပ်နှံမှုပုံစံ (Investment Structure)

ထောင်ဂဏန်း

| | | | | | သုံးစွဲရန်/ဝယ်ယူရန်/ဆောက်လုပ်ရန် | | | | စုစုပေါင်း | | | |
|---|---|---|---|---|---|---|---|---|---|---|---|---|
| | US $ | 1 US $ = ၈၀၀ ကျပ်နှင့် ညီမျှသောကျပ် | ကျပ် | စုစုပေါင်း ကျပ် | US $ | 1 US $ = ၈၀၀ ကျပ်နှင့် ညီမျှသောကျပ် | ကျပ် | စုစုပေါင်း ကျပ် | US $ | 1 US $ = ၈၀၀ ကျပ်နှင့် ညီမျှသောကျပ် | ကျပ် | စုစုပေါင်း ကျပ် |
| ၁ | ၂ | ၃=၂X၈၀၀ကျပ် | ၄ | ၅=၃+၄ | ၆ | ၇=၆X၈၀၀ကျပ် | ၈ | ၉=၇+၈ | ၁၀ | ၁၁=၁၀X၈၀၀ကျပ် | ၁၂ | ၁၃=၁၁+၁၂ |
| ငွေသား | | – | – | – | – | – | | | | | | |
| မြေ (ငှားရမ်းသုံးစွဲပါသည်) | | – | – | – | – | – | ၂၀၀၀၀၀ | ၂၀၀၀၀၀ | – | – | ၂၀၀၀၀၀ | ၂၀၀၀၀၀ |
| စက်ပစ္စည်း | | | | | | | – | – | – | – | – | – |
| ပြည်တွင်းဝယ်(ဗဟား–  ) | | – | – | – | – | | – | – | – | – | – | – |
| ပြည်ပဝယ်(ဗဟား–  ) | | | | | ၂၀၇.၇၉ | ၂၄၆၂၃၂ | | ၂၄၆၂၃၂ | ၂၀၇.၇၉ | ၂၄၆၂၃၂ | – | ၂၄၆၂၃၂ |
| ယာဉ်ယန္တရား/မော်တော်ယာဉ် | | | | | | | | | | | | |
| ပြည်တွင်းဝယ်(ဗဟား–  ) | | – | – | – | – | – | – | – | | – | – | – |
| ပြည်ပဝယ်(ဗဟား–  ) | | – | – | – | | | – | | | | | |
| ကုန်ကြမ်း | | | | | | | | | | | – | |
| ပြည်တွင်းဝယ်(ဗဟား–  ) | | – | – | – | – | – | – | – | – | – | – | – |
| ပြည်ပဝယ်(ဗဟား–  ) | | | | | | | | | | | – | |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | | – | – | – | – | – | ၇၂၄၀ | ၇၂၄၀ | – | – | ၇၂၄၀ | ၇၂၄၀ |
| အဆောက်အဦး | | | | | – | – | ၈၀၇၂၀၀ | ၈၀၇၂၀၀ | – | – | ၈၀၇၂၀၀ | ၈၀၇၂၀၀ |
| စုစုပေါင်း | | | | | ၂၀၇.၇၉ | ၂၄၆၂၃၂ | ၁၁၁၄၄၄၀ | ၁၃၆၀၆၇၂ | ၂၀၇.၇၉ | ၂၄၆၂၃၂ | ၁၁၁၄၄၄၀ | ၁၃၆၀၆၇၂ |

## DELTA INDUSTRIAL GROUP CO.,LTD.

## VALUE OF FACTORY BUILDING

Exhibit No.III

| Sr No | Description | Dimension | No. of Building | Amount |
|---|---|---|---|---|
| 1 | Factory Building (၁ထပ်) | 400' x 240' | 1(No) | 864,000,000 |
| 2 | Office (၁ထပ်) | 60' x 80' | 1(No) | 43,200,000 |
| | **Total** | | **2(Nos)** | **907,200,000** |

# မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီလီမိတက်

## ရင်းနှီးမြှုပ်နှံမှုပုံစံ (အဆောက်အဦး) စာရင်း

သန်းဂဏန်း

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | ဝယ်ယူပြီး | | | | | | ဝယ်ယူရန် | | | | | | စုစုပေါင်း | | | | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | အရေအတွက် | ဈေးနှုန်း | US $ | ညီမျှသောကျပ် | ကျပ် | စုစုပေါင်းကျပ် | အရေအတွက် | ဈေးနှုန်း | US $ | ညီမျှသောကျပ် | ကျပ် | စုစုပေါင်းကျပ် | အရေအတွက် | US $ | ညီမျှသောကျပ် | ကျပ် | စုစုပေါင်းကျပ် |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇=၆X ၈၀၀ကျပ် | ၈ | ၉=၇+၈ | ၁၀ | ၁၁ | ၁၂ | ၁၃=၁၂X ၈၀၀ကျပ် | ၁၄ | ၁၅=၁၃+၁၄ | ၁၆ | ၁၇ | ၁၈=၁၇X ၈၀၀ကျပ် | ၁၉ | ၂၀=၁၈+၁၉ |
| က | ပြည်တွင်းဝယ် | | | | | | | | | | | | | | | | | | |
| | ၁။Exhibit No (III) | | | | | | | | | | | | ၉၀၇.၂၀ | ၉၀၇.၂၀ | | | | ၉၀၇.၂၀ | ၉၀၇.၂၀ |
| | ၂။ | | | | | | | | | | | | | | | | | | |
| | ၃။ | | | | | | | | | | | | | | | | | | |
| | ၄။ | | | | | | | | | | | | | | | | | | |
| | | | | | | | | | | | | | | | | | | | |
| ခ | ပြည်ပဝယ် | | | | | | | | | | | | | | | | | | |
| | ၁။ | | | | | | | | | | | | | | | | | | |
| | ၂။ | | | | | | | | | | | | | | | | | | |
| | ၃။ | | | | | | | | | | | | | | | | | | |
| | ၄။ | | | | | | | | | | | | | | | | | | |
| | | | | | | | | | | | | | | | | | | | |
| | | | | | | | | | | | | | | | | | | | |
| | စုစုပေါင်း | | | | | | | | | | | | ၉၀၇.၂၀ | ၉၀၇.၂၀ | | | | ၉၀၇.၂၀ | ၉၀၇.၂၀ |

## DELTA INDUSTRIAL GROUP CO.,LTD.

### LIST OF FURNITURES AND OFFICE EQUIPMENTS

Exhibit No. IV

| Sr No. | Particulars | Qty | Units | Unit Price In Kyats | Value In Kyats |
|---|---|---|---|---|---|
| 1 | Computer | 6 | Nos | 640,000 | 3,840,000 |
| 2 | Printer | 2 | Nos | 120,000 | 240,000 |
| 3 | Table | 40 | Nos | 28,000 | 1,120,000 |
| 4 | Chair | 60 | Nos | 11,000 | 660,000 |
| 5 | Cabinet | 6 | Nos | 150,000 | 900,000 |
| 6 | Settee | 2 | Set | 240,000 | 480,000 |
| | **TOTAL** | | | | **7,240,000** |

# မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီလီမိတက်

## ရင်းနှီးမြှုပ်နှံမှုပုံစံ (ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း) စာရင်း

သန်း/ကျပ်

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | ဝယ်ယူပြီး | | | | | | ဝယ်ယူရန် | | | | | | စုစုပေါင်း | | | | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | အရေအတွက် | ဈေးနှုန်း | US $ | ညီမျှသောကျပ် | ကျပ် | စုစုပေါင်းကျပ် | အရေအတွက် | ဈေးနှုန်း | US $ | ညီမျှသောကျပ် | ကျပ် | စုစုပေါင်းကျပ် | အရေအတွက် | US $ | ညီမျှသောကျပ် | ကျပ် | စုစုပေါင်းကျပ် |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇=၆X ၈၀၀ကျပ် | ၈ | ၉=၇+၈ | ၁၀ | ၁၁ | ၁၂ | ၁၃=၁၂X ၈၀၀ကျပ် | ၁၄ | ၁၅=၁၃+ ၁၄ | ၁၆ | ၁၇ | ၁၈=၁၇X ၈၀၀ကျပ် | ၁၉ | ၂၀=၁၈+ ၁၉ |
| က | ပြည်တွင်းဝယ် | | | | | | | | | | | | | | | | | | |
| | ၁။Exhibit No (IV) | | | | | | | | | | | | | | | | | | |
| | ၂။ | | | | | | | | | | | | ၇.၂၄ | ၇.၂၄ | | | | ၇.၂၄ | ၇.၂၄ |
| | ၃။ | | | | | | | | | | | | | | | | | | |
| | ၄။ | | | | | | | | | | | | | | | | | | |
| | | | | | | | | | | | | | | | | | | | |
| ခ | ပြည်ပဝယ် | | | | | | | | | | | | | | | | | | |
| | ၁။ | | | | | | | | | | | | | | | | | | |
| | ၂။ | | | | | | | | | | | | | | | | | | |
| | ၃။ | | | | | | | | | | | | | | | | | | |
| | ၄။ | | | | | | | | | | | | | | | | | | |
| | | | | | | | | | | | | | | | | | | | |
| | | | | | | | | | | | | | | | | | | | |
| | စုစုပေါင်း | | | | | | | | | | | | ၇.၂၄ | ၇.၂၄ | | | | ၇.၂၄ | ၇.၂၄ |

# DELTA INDUSTRIAL GROUP CO., LTD

## Machineries & Equipment

## To Be Imported

Exhibit No. V

| Sr No. | Particulars | Unit | Qty | Price | Amount (US$) |
|---|---|---|---|---|---|
| | **Machineries For Garment Production** | | | | |
| 1 | Juki Single Needle | Nos | 500 | 120 | 60,000 |
| 2 | Juki Double Needle | Nos | 120 | 240 | 28,800 |
| | Juki 2 Needle Chainstitch | | | | |
| 3 | Juki 5 Thread Overlock | Nos | 30 | 260 | 7,800 |
| 4 | Juki 4 Thread Overlock | Nos | 30 | 250 | 7,500 |
| 5 | Juki Bar Tack | Nos | 30 | 240 | 7,200 |
| 6 | Juki Button Hotel | Nos | 20 | 280 | 5,600 |
| 7 | Juki Button Attach | Nos | 20 | 300 | 6,000 |
| 8 | Juki Keyhole | Nos | 20 | 280 | 5,600 |
| 9 | Juki Chanstitch Double Needle Three Needle | Nos | 20 | 300 | 6,000 |
| 10 | Juki 200 | Nos | 10 | 300 | 3,000 |
| | Sealing M/C | Nos | 20 | 320 | 6,400 |
| 11 | Cutting Machines Hand Knife 8"/10" (Eastman/km) | Nos | 20 | 275 | 5,500 |
| | End Cutter (Sulee Brand) | Nos | 12 | 150 | 1,800 |
| 12 | Band Knife | Nos | 10 | 160 | 1,600 |
| 13 | Fusing Machine | Nos | 10 | 300 | 3,000 |
| 14 | Collar/ Cuf forming Machine/Tunning Machine | Nos | 2 | 320 | 640 |
| 15 | Thread rewinder machine | Nos | 20 | 200 | 4,000 |
| 16 | Needle detector machine | Nos | 10 | 400 | 4,000 |
| 17 | Steam boiler | Nos | 30 | 400 | 12,000 |
| 18 | Irons (Dual) | Nos | 100 | 80 | 8,000 |
| 19 | Ironing tables | Nos | 50 | 80 | 4,000 |
| 20 | Blindstitch Machine | Nos | 12 | 150 | 1,800 |
| 21 | Piping Cutter | Nos | 12 | 150 | 1,800 |
| 22 | Snap Button Machine (Manual) | Nos | 50 | 75 | 3,750 |
| 23 | Juki Holing Machine | Nos | 10 | 300 | 3,000 |
| 24 | Generator 500 KVA | Nos | 2 | 20000 | 40,000 |
| 25 | Generator 250 KVA | Nos | 2 | 18000 | 36,000 |
| 26 | Generator 60 KVA | Nos | 2 | 12000 | 24,000 |
| 27 | Fork Lift 5 Tons | Nos | 1 | 5000 | 5,000 |
| 28 | Fork Lift 3 Tons | Nos | 1 | 4000 | 4,000 |
| | **Total** | | | | **307,790** |





# FORM VI

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104 )

( To be filled with the Registrar within one month after the allotment is made )

Return of allotment from the 25th of May, 2012

on the of of the * DELTA INDUSTRIAL GROUP CO., LTD

Made pursuant to Section 104 (1)

Number of the shares allotted payable in cash ....... 500 Shares

" " " " .......

Nominal amount of the shares so allotted ....... Ks. 50,000,000/-

" " " " .......

Amount paid or due and payable on cash such share....... Ks. 100,000/-

" " " " ....... (Fully Paid Up)

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted ........

Amount to be treated as paid on each such share ........

The consideration for which such share have been allotted is as follow: -

---

**NOTE** : In making a return of allotted under Section 104 (1) the Myanmar Companies Act., it is to be noted that-

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.
2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world " From" after the world " allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

Presented for filling by: U Akauk @ Tint Swe (M.D)

Name, Address and Description of Allot tees

| Name & N.R.C No | Address | Description | Number of the shares allotted | |
|---|---|---|---|---|
| | | | Preference | ordinary |
| 1. U Akauk @ Tint Swe 14/WaKhaMa (Naing) 135148 | No.Nya/44, Ngu Wah Street, Ward No.1, Mayangone Township, Yangon. | Merchant | | 250 |
| 2. U Than Min 14/PaThaNa (Naing) 013369 | No.54, Hledan Main Road, Ward No.3, Kamayut Township, Yangon. | Merchant | | 250 |
| | | | Total | 500 Shares |




(Tint Swe)
Managing Director
Delta Industrial Group Co., Ltd.

Signature

Date 25.5.2012

MANAGING DIRECTOR

FORM VI

FORM XVI

# PARTICULARS OF DIRECTORS, MANAGERS AND MANGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies ɜt, See Section 87)

Name of Company : DELTA INDUSTRIAL GROUP CO., LTD

Presented by : U Akauk @ Tint Swe(M.D)

| | The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential ddress | Other Business Occupation | Changes |
|---|---|---|---|---|---|
| 1. | U Akauk @ Tint Swe | Myanmar 14/WaKhaMa (Naing) 135148 | No.Mya/44, Ngu Wah Stree, Ward No.1, Mayangone Township, Yaugn. | Merchant | Appointed As Managing Director w.e.f. 25.5.2012 |
| 2. | U Than Min | Myanmar 14/PaThaNa (Naing) 013569 | No.54, Hledan Main Road Ward No.3, Kamayut Township, Yangor | Merchant | Appointed As Director w.e.f. 25.5.2012 |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as exing in the last particulars.
(2) A note of the changes since the last list should be made in the column for " Chaes" by placing against the new Director's name the word " in place of ............ and by writing against any former Director's name the word "dead " " resigned" as the case may be giving the date of change against the entry.




Signature ........(Tint Swe)............

Designation Managing Director
Delta Industrial Group Co., Ltd.

Dated this ......25.5.2012..........

Form(26)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီလီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

Memorandum Of Association

*AND*

Articles Of Association

*OF*

# DELTA INDUSTRIAL GROUP COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြစ်ဝကျွန်းပေါ် စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီလီမိတက်

၏

သင်းဖွဲ့မှတ်တမ်း



၁။ ကုမ္ပဏီ၏အမည်သည် " **မြစ်ဝကျွန်းပေါ် စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီလီမိတက်** " ဖြစ်သည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းသည် ကျပ် **၅၀၀,၀၀၀,၀၀၀ /-** (ကျပ် **သန်းငါးရာ** တိတိ)ဖြစ်၍ ငွေကျပ် **၁၀၀,၀၀၀ /-** (ကျပ် **တစ်သိန်း** တိတိ)တန် အစုရှယ်ယာပေါင်း ( ၅,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

## စက်မှုလက်မှုနှင့်ထုတ်လုပ်မှုလုပ်ငန်း ရည်ရွယ်ချက်

၁။ နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်များ နှင့်ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း။

(ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊

(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊

(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊

(င) ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊

(စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊

(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့်သုတ်ဆေးများ ထုတ်လုပ်ခြင်း၊

(ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဌ) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဍ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊

(ဎ) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊

၂။ အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသော ကုန်ချောများ တစ်စိတ်တစ်ဒေသကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်၊

၃။ ကုမ္ပဏီမှသင့်လျော် လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်၊

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလ အားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း၊ သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကိုဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးအကောက်(ခ)တင့်ဆွေ<br>အမှတ် - ၈/၄၄၊ ၄ဝါလမ်း၊ (၁) ရပ်ကွက်၊<br>မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။<br><br>(ကုန်သည်) | မြန်မာ<br>၁၄/ဝခမ(နိုင်)<br>၁၃၅၁၄၈ | ၂၅၀ | (signature) |
| ၂။ | ဦးသံမင်း<br>အမှတ် - ၅၄၊ လှည်းတန်းလမ်းမ၊<br>(၃) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။<br><br>(ကုန်သည်) | မြန်မာ<br>၁၄/ပသန(နိုင်)<br>၀၁၃၅၆၉ | ၂၅၀ | (signature) |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၂ ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ၂၄ ရက်။
အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

DAW AYE THIDAR
B.Com (Q), C.P.A
Accountant and Auditor
141/145, 4th Fl, Bo Aung Kyaw Street.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီလီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည်ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည်အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကိုငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ (သို့မဟုတ်) ဒီဘင်ချာစတော့(ခ်)တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ဖိတ်ခေါ်ခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းမှာ ကျပ် **၅၀၀,၀၀၀,၀၀၀/-** (ကျပ် **သန်းငါးရာ** တိတိ) ဖြစ်၍ ငွေကျပ် **၁၀၀,၀၀၀/-** ( ကျပ် **တစ်သိန်း** တိတိ ) တန် အစုရှယ်ယာပေါင်း (**၅,၀၀၀**) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက်အခြေအနေ တစ်စုံတစ်ရာဖြင့်အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ်ရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့်ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်ခုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများကသတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့်နေရာတွင်ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ်ပယ်ဖျက်ခြင်းသို့မဟုတ်ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ * သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦး ထက်မနည်း၊ ( ၂၅ ) ဦးထက်မများစေရ၊
ပထမဒါရိုက်တာများသည် -

( ၁ ) ဦးအကောက်(ခ)တင့်ဆွေ
( ၂ ) ဦးသံမင်း
( ၃ )
( ၄ )
( ၅ ) တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - ) စုကို ပိုင်ဆိုင်ခြင်းဖြစ်၍၎င်းသည်မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည်၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန်တွေ့ဆုံ ဆွေးနွေးခြင်း အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံးဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင်မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာမဆို အချိန်မရွေး ခေါ်နိုင်သည်

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည်နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

### ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေအာဏာများကိုမထိခိုက်စေဘဲဒါရိုက်တာများသည်အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ-

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန် အာဏာရှိသည့်မည်သည့်ပစ္စည်း၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ်အဆိုပါ ချေးငှားသောငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါ အဝင်ယခုလက်ရှိနှင့် နောင်ရှိမည့်ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ်တစ်စိတ်တဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံ စာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများအနေဖြင့် သော်လည်းကောင်း၊ သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံးသို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ၊ ထိုကဲ့သို့ မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီ နှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်းအလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍ သော်လည်းကောင်း၊ ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ် ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စများအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ် အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသ ကိုဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စားဆောင်ရွက် နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍မန်နေဂျင်းဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာအဖြစ်ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကိုဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေစွန့်လွှတ်ခြင်း အား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စားလက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆိုခန့်ထားရန်နှင့် အဆိုပါယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့်စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီ အပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ်ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက်အပ်နှံရန်အပြင်ဖြန်ဖြေရေး ခုံသမာဓိ၏ဆုံးဖြတ်ချက်အတိုင်းလိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေး များအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီးမဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ကုမ္ပဏီ၏ကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့်လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံ ပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်၊ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ဟုတ် ကုန်ကျခံထားသော ဒါရိုက်တာသို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့်အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပါပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့် လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသောအမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ် များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ် သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါကကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှတစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး ကြီးကို ကျင်းပရမည်။ ထို့နောက်ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့်နေရာ များတွင်ပြက္ခဒိန်နှစ်တစ်နှစ်လျှင်အနည်းဆုံးတစ်ကြိမ်(နောက်ဆုံးကျင်းပသည့် အထွေထွေအစည်း အဝေးကြီး နှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်းသတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်း ထက်မနည်းပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံးဆောင်ရွက်ရန်အတွက် အစည်းအဝေး အထမြောက် သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက် နှစ်ဦးတည်းသာ ရှိသည့်ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအားခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မှီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်းပြည့်မှီသူများ အား ရုံးဝန်ထမ်းများအဖြစ်ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များ ကဲ့သို့သော ဥဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ်အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါသတ်မှတ်ချက်များ နှင့်အညီ ထားသိုထိန်းသိမ်းဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ရငွေ၊သုံးငွေများ၏ပမာဏနှင့်၎င်းရငွေ၊သုံးငွေများဖြစ်ပေါ်ခြင်းနှင့်စပ်လျဉ်းသည့်အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉ ။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများသို့မဟုတ် ဒါရိုက်တာ များက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများ နှင့် လိုက်လျောညီထွေဖြစ်ရမည်။

နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက် စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

လျော်ကြေး

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိ တရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူးသို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ ဖြစ်စေ ထိုတာဝန်ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့် ရှိစေရမည်။

ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးအကောက်(ခ)တင့်ဆွေ<br>အမှတ် – ၎/၄၄၊ ၄၀ါလမ်း၊ (၁) ရပ်ကွက်၊<br>မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။<br><br>(ကုန်သည်) | မြန်မာ<br>၁၄/ဝခမ(နိုင်)<br>၁၃၅၁၄၈ | ၂၅၀ | |
| ၂။ | ဦးသံမင်း<br>အမှတ် – ၅၄၊ လှည်းတန်းလမ်းမ၊<br>(၃) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။<br><br>(ကုန်သည်) | မြန်မာ<br>၁၄/ပသန(နိုင်)<br>၀၁၃၅၆၉ | ၂၅၀ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၂ ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ၂၄ ရက်။
အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

DAW AYE THIDAR
B.Com (Q), C.P.A
Accountant and Auditor
141/145, 4th Fl, Bo Aung Kyaw Street.

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

Memorandum Of Association

OF

# DELTA INDUSTRIAL GROUP COMPANY LIMITED



I. The name of the Company is **DELTA INDUSTRIAL GROUP COMPANY LIMITED.**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks. **500,000,000/-** ( Kyats - **Five Hundred Million** Only) divided into ( **5,000** ) shares of Ks. **100,000/-** ( Kyats - **One Hundred Thousand** Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

## Objectives of Industry and Manufacturing

1. To carry on the business of manufacturing, growing, milling and preserving etc; of the following commodities permitted by the Government, either solely on its own or in Joint-venture with any local or foreign partners.
   (a) Growing, producing, harvesting, preserving, packing, milling and manufacturing of agricutural and farm products.
   (b) Felling, extracting (with the permission from the authorities concerned) milling, manufacturing, preserving and seasoning of timber (excluding teak) and forest products.
   (c) Livestock breeding, processing and canning of livestock products.
   (d) Fishing, preserving, milling, canning and processing of marine products.
   (e) Producing fertilizers, insecticides and animal feeds.
   (f) Manufacturing of personal goods.
   (g) Manufacturing of household goods.
   (h) Manufacturing of vehicles, machineries and spares.
   (i) Manufacturing of arts and crafts, lacquerwares and furniture.
   (J) Manufacturing of construction materials and paints.
   (k) Manufacturing of factory utencils.
   (1) Manufacturing of electrical and electronic goods.
   (m) Manufacturing of textile, garments and clothings.
   (n) To carry on the business of exploration, exploitation, production, processing of minerals and marketing of its products with the permission of the Government.

2. To import machinery, spare parts, raw materials and others necessary for those activities mentioned above and to sell wholesale and retail finished and semi-finished products locally and abroad.
3. To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manner that the Company shall think fit.

**PROVISO:** Provided that the Company shall not exercise any of the above objects whether in the Union ofMyanmar or elsewhere, save in so for as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union ofMyanmar for the time being in force

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U Akauk @ Tint Swe<br>No.Nga/44, Ngu Wah Street,<br>Ward No.(1), Mayangone Township,<br>Yangon.<br>(Merchant) | Myanmar<br>14/WaKhaMa<br>(Naing)<br>135148 | 250 | |
| 2. | U Than Min<br>No.54, Hledan Main Road,<br>Ward No.(3), Kamayut Township,<br>Yangon.<br>(Merchant) | Myanmar<br>14/PaThaNa<br>(Naing)<br>013569 | 250 | |

Yangon. Dated the 24th day of February, 2012.

*It is hereby certified that the persons mentioned above put their signatures in my presence.*

DAW AYE THIDAR
B.Com (Q), C.P.A
Accountant and Auditor
141/145, 4th Fl, Bo Aung Kyaw Street.

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

Artical Of Association

OF

# DELTA INDUSTRIAL GROUP COMPANY LIMITED



1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsis-atent with the following Articles. The compulsory regulations stipulated in Section 17(2) of the myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

*(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

*(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The authorised capital of the Company is Ks. **500,000,000/-** ( Kyats - **Five Hundred Million** Only) divided into (**5,000** ) shares of Ks. **100,000/-** (Kyats - **One Hundred Thousand** Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and he legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directos shall not be less than ( 2 ) and not more than ( 25 ).
The First Directors shall be: -

( 1 ) U Akauk @ Tint Swe
( 2 ) U Than Min
( 3 )
( 4 )
( 5 )

8. The Directors may from time to time appoint one of their body to the office of th Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( - ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reson.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

**POWERS AND DUTIES OF DIRECTORS**

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debentures stocks of the Company charged upon all or any part of the property of the Company (both present and future ) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds , debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up there on as may be agreed upon ; and any such bonds, debentures or other securities may be either specifically charged up on all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director , General Manager , Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute conduct , defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Conpany.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange , cheques, promissory notes zreceipts,endorsements,releases, contracts and documents for or on behalf of the Company.

(14) To invest,place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future )as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make , vary and repeal bye- laws for the regulation of the business of the Company , the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts , deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceeding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members ) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members , but no dividend shall exceed the amount recommended by the Directors .No dividends shall be paid otherwise than out of the profits of the year or any other undistributed profits .

## OFFICE STAFF

17. The Company shall maintain an office establisment and appoint a qualified person as General Manager and other qualified persons as office staffs . The remunerations and allowances such as salaries , travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting .The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:*

*(2) all sales and purchases of goods by the Company ;*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING - UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.



We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U Akauk @ Tint Swe<br>No.Nga/44, Ngu Wah Street,<br>Ward No.(1), Mayangone Township,<br>Yangon.<br>(Merchant) | Myanmar<br>14/WaKhaMa<br>(Naing)<br>135148 | 250 | |
| 2. | U Than Min<br>No.54, Hledan Main Road,<br>Ward No.(3), Kamayut Township,<br>Yangon.<br>(Merchant) | Myanmar<br>14/PaThaNa<br>(Naing)<br>013569 | 250 | |

Yangon. Dated the 24th day of February , 2012.

*It is hereby certified that the persons mentioned above put their signatures in my presence.*

DAW AYE THIDAR
B.Com (Q), C.P.A
Accountant and Auditor
141/145, 4th Fl, Bo Aung Kyaw Street.

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့**

စာအမှတ်၊ ရက-၆(က)/မ- ၁၂၈၁/၂၀၁၂(၁၃၉၄၅-)၈
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ ၅ ရက်

အကြောင်းအရာ။ **Delta Industrial Group Co., Ltd CMP မှ စနစ် ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Delta Industrial Group Co., Ltd မှ ရောဝတီတိုင်း ဒေသကြီး၊ ပုသိမ်ခရိုင်၊ အမှတ်(၁၃)ရပ်ကွက်၊ ကွင်းအမှတ်(၅၂-စီးပွားဇုန်)၊ မြေကွက်အမှတ်(P-၅)၊ မြေဧရိယာ(၅)ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် တင်ပြခြင်းကို ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်း ရှာဖွေမြှင့်တင်ရေး အဖွဲ့ ၏ (၄၀/၂၀၁၂) (၃၀-၁၁-၂၀၁၂) အစည်းအဝေးသို့ တင်ပြခဲ့ပါ သည်။

၂။ ယင်းအစည်းအဝေးမှ အောက်ပါ လိုအပ်ချက်များအား ပြန်လည် စိစစ်ပေးပါရန် ဆုံးဖြတ်ပါသည် -

(က) ပြည်ပမှ ဝယ်ယူရန် တင်ပြထားသည့် ယာဉ်စာရင်းတွင် လူစီးယာဉ်များ ပါဝင်နေပါသဖြင့် ပြည်တွင်းတွင် ဝယ်ယူရန်၊

(ခ) Norm စာရင်းတင်ပြပေးရန်၊

(ဂ) CMP အထည်ချုပ်သီးခြား တင်ပြရန် နှင့် Reject ၁% ဖော်ပြပေးရန်၊

(ဃ) ကုန်ကြမ်းလိုအပ်ချက် အား နှစ်အလိုက်ဖော်ပြပေးပါရန်၊

(င) ရင်းနှီးမြှုပ်နှံမှု သက်တမ်းဖော်ပြပေးပါရန်၊

(စ) လုပ်ငန်း၏ ထုတ်လုပ်မှု ဇယားတွင် ကုန်ပစ္စည်း အမယ်များ၏ ထုတ်လုပ်မှုသည် နှစ်စဉ် တူညီနေပါ၍ ပြန်လည်စိစစ်ပေးပါရန်

၃။ သို့ဖြစ်ပါ၍ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန် နှင့် လိုအပ်သကဲ့သို့ ဆက်လက် ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

အဖွဲ့ခေါင်းဆောင် (ကိုယ်စား)
(သန့်စင်ကြိုင်၊ အတွင်းရေးမှူး)



Delta Industrial\ICPT Rep

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဖက်(စ)-၆၇-၄၀၆၁၆၁

တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊၄၀၆၃၆၂

စာအမှတ်၊ ရက-မ(က)/ မ-၁၂၈၀/ ၂၀၁၂( ၁၁၉၃)၅.

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ ၇ ရက်

သို့

CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Delta Industrial Group Co., Ltd ၏ (၂၁-၁၁-၂၀၁၂) ရက်စွဲပါစာ

၁။ Delta Industrial Group Co., Ltd မှ ဧရာဝတီတိုင်း ဒေသကြီး၊ ပုသိမ်ခရိုင်၊ အမှတ်(၁၃)ရပ်ကွက်၊ ကွင်းအမှတ် (၅၂-စီးပွားဇုန်)၊ မြေကွက်အမှတ်(P-၅)၊ မြေဧရိယာ(၅) ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအကောက် (ခ) ဦးတင့်ဆွေ (အဘ-ဦးမောင်ချောင်) မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရည်ညွှန်းချက်ပါစာဖြင့် အဆိုပြုချက် တင်ပြလာခဲ့ပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၃)၊ အပိုဒ်(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို အမြန်ဆုံးစိစစ်ပေးရန် သမ္မတရုံး မှ ညွှန်ကြားထားပါသဖြင့် ဤလုပ်ငန်းပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် နှင့် အောက်ပါ အချက်များအား စိစစ်၍ **ရက်သတ္တပတ်တစ်ပါတ်** အတွင်း ပြန်ကြားပေးနိုင်ပါရန် အဆိုပြုချက် (တစ်)စောင် ပူးတွဲပေးပို့လျှက် ညှိနှိုင်း မေတ္တာရပ်ခံ အပ်ပါသည် -

(က) CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှု ရှိ- မရှိ၊

(ခ) CMP လက်ခနှုန်းများ တင်ပြထားမှုသည် ဆီလျော်မှု ရှိ- မရှိ၊

(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား အချိုးအစားညီမျှမှု ရှိ- မရှိ၊

ဥက္ကဋ္ဌ (ကိုယ်စား)

(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

Delta industrial(CMP)





မိတ္တူ-

ပြည်ထောင်စုဝန်ကြီးရုံး
စက်မှုဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

Delta Industrial Group Co., Ltd. (အမှတ်-ည/၄၄၊ ငုဝါလမ်း အမှတ်(၁)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ် ရန်ကုန်တိုင်း နှင့် ဖုန်း ၀၉-၅၁၆၇၅၂၅၊ ၇၃၂၄၂၅၇) ထံ သိရှိနိုင်ပါရန်နှင့် သဘော ထားမှတ်ချက် ရရှိရေးအတွက် သက်ဆိုင်ရာနှင့် ဆက်သွယ် ဆောင်ရွက်ပါရန် အကြောင်း ကြားပါသည်
ရုံးလက်ခံ/ မျှောစာတွဲ။



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဖက်(စ)-၆၇-၄၀၆၁၀၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊၄၀၆၃၄၂

စာအမှတ်၊ ရက-မ(က)/ မ-၁၂၈၁/ ၂၀၁၂(၁၁၉၃)၅-

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ ၇ ရက်

သို့

ဝန်ကြီးချုပ်ရုံး

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) နိုင်ငံတော် သမ္မတရုံး၏ (၂၀-၄-၂၀၁၂) ရက်စွဲပါ အမိန့် ကြော်ငြာစာ အမှတ်၊ ၂၂/၂၀၁၁

(၂) Delta Industrial Group Co., Ltd ၏ (၂၁-၁၁-၂၀၁၂) ရက်စွဲပါစာ

၁။ Delta Industrial Group Co., Ltd မှ ဧရာဝတီတိုင်း ဒေသကြီး၊ ပုသိမ်ခရိုင်၊ အမှတ်(၁၃)ရပ်ကွက်၊ ကွင်းအမှတ် (၅၂-စီးပွားဇုန်)၊ မြေကွက်အမှတ်(P-၅)၊ မြေဧရိယာ(၅) ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအကောက် (ခ) ဦးတင့်ဆွေ (အဘ-ဦးမောင်ချောင်) မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရည်ညွှန်းချက်(၂)ပါစာဖြင့် အဆိုပြုချက် တင်ပြလာခဲ့ပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း (၃) ၊ အပိုဒ် (၁၁) ပါ ပြဋ္ဌာန်းချက် နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်ခွင့် အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တိုင်းဒေသကြီး နှင့် ပြည်နယ်အစိုးရက ထောက်ခံချက်ပေးရာတွင် ဝန်ကြီးချုပ် ကိုယ်တိုင် စိစစ်လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန် နိုင်ငံတော် သမ္မတရုံး၏ ရည်ညွှန်း(၁)ပါ စာပိုဒ်၃(စ) တွင် ဖော်ပြထားပါသည်။

၄။ ကော်မရှင် အနေဖြင့် လုပ်ငန်း အဆိုပြုလွှာများကို အမြန်ဆုံး စိစစ်ပေးရန် သမ္မတရုံးမှ ညွှန်ကြားထားပါသဖြင့် အောက်ပါ သဘောထား မှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်**အတွင်း ပြန်ကြားပေးနိုင်ပါရန် အဆိုပြုချက် (တစ်)စောင် ပူးတွဲ ပေးပို့လျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိ

(ခ) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်/မဖြစ်

(ဂ) ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ

(ဃ) တိုင်းဒေသကြီးအစိုးရ အဖွဲ့၏ အကြံပြုချက်

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ-

Delta Industrial Group Co., Ltd. (အမှတ်-ည/၄၄၊ ငုဝါလမ်း အမှတ်(၁)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ် ရန်ကုန်တိုင်း နှင့် ဖုန်း ၀၉-၅၁၆၇၅၂၅၊ ၇၇၂၄၂၂၅၇) ထံ သိရှိနိုင်ပါရန်နှင့် သဘော ထားမှတ်ချက် ရရှိရေးအတွက် သက်ဆိုင်ရာနှင့် ဆက်သွယ် ဆောင်ရွက်ပါရန် အကြောင်း ကြားပါသည်
ရုံးလက်ခံ/ မျှောစာတွဲ။